မလေးရှားနိုင်ငံ Muar Industries SDN. BHD. မှ ရွှေ့ဆိုင်းငွေ ပေးချေခြင်းစနစ်ဖြင့် အတိုးမဲ့ ဝယ်ယူမည် ဖြစ်ပြီး (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ကမကထပြုသူ ဦးအေးလွင်အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသောမြေကွက်အမှတ် (၂၁)၊ စက်မှုဇုန်(၁)၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၂.၄၀) ဧက (၉၇၁၂.၄၆ စတုရန်းမီတာ)ပေါ်တွင် လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှထုတ်လုပ်မှု၏ (၇၀) ရာခိုင်နှုန်းကို ပြည်ပသို့ လည်းကောင်း၊ (၃၀) ရာခိုင်နှုန်း ကိုပြည်တွင်းတွင်လည်းကောင်း ရောင်းချမည်ဖြစ်ပြီး ပုံမှန်နှစ်ရှိထုတ်လုပ်မှုများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု | |
|---|---|---|---|
| | | ကျွန်း (ကုဗမီတာ) | သစ်မာ (ကုဗမီတာ) |
| ၁။ | Door& Window | ၉၉ | ၂၉၇ |
| ၂။ | Door& Window Frame | ၁၉၈ | ၅၉၄ |
| ၃။ | Furniture Components | ၁၉၈ | ၅၉၄ |
| ၄။ | Parquet / Moulding | ၁၉၈ | ၅၉၄ |
| ၅။ | Skirting Line | ၂၉၇ | ၈၉၁ |

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၉)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁၈.၃၇) ရာခိုင်နှုန်းဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်း ခြေမှာ အောက်ပါ အတိုင်းဖြစ်ပါသည် -

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၃.၂၆ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၇ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၄၅.၁၄ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၉ သန်း |

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း(၁၅၀)ဦးနှင့် ပြည်ပမှဝန်ထမ်း (၃)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ သတ်မှတ်ထားသောစည်းမျဉ်းစည်းကမ်းအတိုင်း ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိ ပါကြောင်း သဘောထားပြန်ကြား လာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုနှင့် ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့်သက်သာခွင့် များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေး လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) မင်းဝံစက်မှုလုပ်ငန်းများကုမ္ပဏီ လီမိတက်တည်ထောင်၍ သစ်အချောထည်နှင့် ပရိဘောဂပစ္စည်း များထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် သဘောတူ–မတူ။

၁၂။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။</u>

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(က)(၄)/(၂၁၈၇/၂၀၀၀)

ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှစက်ရုံတည်ဆောက်၍ သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၀-၁၀-၂၀၀၀ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၆၇၀/၂၀၀၀(၂၂၀၅-၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ ဒဂုံမြို့သစ်၊ ဆိပ်ကမ်းမြို့နယ်၊စက်မှုဇုန်(၁)၊မြေကွက်အမှတ်(၂၁)တွင် စက်ရုံတည်ဆောက်ပြီး သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုကြောင်း လျှောက်ထားသည့် ကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ စက်ရုံတည်ဆောက်လိုခြင်းအပေါ် ကုမ္ပဏီ မှ တာဝန်ရှိ ပုဂ္ဂိုလ်များအား မြန်မာ့သစ်လုပ်ငန်းမှ တွေ့ဆုံစိစစ်ချက်အရ ၄င်းတို့၏ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် သစ်ကုန်ကြမ်းလိုအပ်ချက်မှာ ပျမ်းမျှနှစ်စဉ် ကျွန်းသစ်လုံးတန်(၁၀၀၀)နှင့် သစ်မာသစ်လုံးတန်(၃၀၀၀)၊ စုစုပေါင်း ကျွန်းနှင့်သစ်မာ သစ်လုံးတန် (၄၀၀၀) လိုအပ်မည်ဖြစ်ကြောင်း၊ ကျွန်းသစ်လုံးများကို မြန်မာ့သစ်လုပ်ငန်း မှ တင်ဒါစနစ်ဖြင့် လည်းကောင်း၊ သစ်မာသစ်လုံးများကို သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက် နှင့် အခြားတရားဝင် သစ်ထုတ်လုပ်ခွင့် ရရှိထားသော ပုဂ္ဂလိက လုပ်ငန်းရှင်များထံ မှ ဝယ်ယူ၍ လည်းကောင်း၊ ကုန်ကြမ်း ရရှိရေးကို ကြိုးပမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထွက်ရှိလာသော ကုန်ချော များ၏ (၇၀%)ကို ပြည်ပသို့ တင်ပို့ရောင်းချပြီး၊ကျန်(၃၀%)ကို ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချ သွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ရာတွင် သစ်တောရေးရာဝန်ကြီးဌာန ၊ မြန်မာ့သစ်လုပ်ငန်းအနေဖြင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ကုမ္ပဏီများသို့ ကုန်ကြမ်း ကျွန်းသစ်လုံးများကို အမေရိကန်ဒေါ်လာဖြင့်သာ တင်ဒါဈေးနှုန်းအတိုင်း ရောင်းချပေးပါသည်။သစ်မာသစ်လုံး ကုန်ကြမ်းများကိုမူ မြန်မာ့သစ်လုပ်ငန်းနှင့် သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက်တို့ထံ မှ ဝယ်ယူရရှိနိုင်ပြီး၊ ထိုသို့ဝယ်ယူရရှိလာသော သစ်မာသစ်လုံး ကုန်ကြမ်းများမှ ထွက်ရှိသည့် ကုန်ချောပစ္စည်းများကိုသာ ပြည်ပသို့ တင်ပို့ခွင့်ပြုသွားနိုင်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြလာသော မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ အထက်ဖော်ပြပါ သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထားသော စည်းကမ်းချက်များအတွင်းမှ လုပ်ဆောင်သွားမည် ဆိုပါက သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( ဘချို ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ-မြန်မာ့သစ်လုပ်ငန်း

၄။ ယင်းလုပ်ငန်းမှထုတ်လုပ်မှု၏ (၇၀) ရာခိုင်နှုန်းကို ပြည်ပသို့ သည်းကောင်း၊ (၃၀) ရာခိုင်နှုန်းကို ပြည်တွင်းတွင်လည်းကောင်း ရောင်းချမည်ဖြစ်ပြီး ပုံမှန်နှစ်ရှိထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် –

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု | | ရောင်းဈေးနှုန်း | | | |
|---|---|---|---|---|---|---|---|
| | | ကျွန်း (ကုဗမီတာ) | သစ်မာ (ကုဗမီတာ) | ကျွန်း | | သစ်မာ | |
| | | | | ပြည်တွင်း (ကျပ်/ ကုဗမီတာ) | ပြည်ပ (US$/ Cum) | ပြည်တွင်း (ကျပ်/ ကုဗမီတာ) | ပြည်ပ (US$/ Cum) |
| ၁ | Door& Window | ၆၆ | ၂၉၇ | ၄၂၀၀၀၀ | ၂၆၀၀ | ၁၇၀၀၀၀ | ၁၀၀၀ |
| ၂ | Door& Window Frame | ၁၉၈ | ၅၉၄ | ၃၇၀၀၀၀ | ၂၂၀၀ | ၁၂၀၀၀၀ | ၉၀၀ |
| ၃ | Furniture Components | ၁၉၈ | ၅၉၄ | ၃၇၀၀၀၀ | ၂၂၀၀ | ၁၂၀၀၀၀ | ၉၀၀ |
| ၄ | Parquet / Moulding | ၁၉၈ | ၅၉၄ | ၃၂၀၀၀၀ | ၂၀၀၀ | ၁၁၅၀၀၀ | ၈၅၀ |
| ၅ | Skirting Line | ၂၉၇ | ၈၉၁ | ၃၂၀၀၀၀ | ၂၀၀၀ | ၁၁၅၀၀၀ | ၈၅၀ |

၅။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် –

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၈၀.၅၆ | ၁၇.၄၂ | ၁၉၇.၉၈ |
| (ခ) အသုံးစရိတ် | ၁၇၂.၉၆ | ၁၁.၇၅ | ၁၈၄.၇၁ |
| (ဂ) အသားတင်အမြတ် | ၇.၆၀ | ၅.၆၇ | ၁၃.၂၇ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၉)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း **(IRR)** မှာ (၁၈.၃၇) ရာခိုင်နှုန်းဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်းဖြစ်ပါသည် –

| | | | |
|---|---|---|---|
| (က) | ခွင်ငွေခွန် | ကျပ် | ၃.၂၆ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၇ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၄၅.၁၄ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၉ သန်း |

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း(၁၅၀)ဦးနှင့် ပြည်ပမှဝန်ထမ်း (၃)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောတူမှတ်ချက်တောင်းခံခဲ့ရာ သတ်မှတ်ထားသောစည်းမျဉ်းစည်းကမ်းအတိုင်း ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြား လာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ လုပ်ငန်းမှရရှိသည့် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ပြည်ပသို့တင်ပို့ရန် ဈေးကွက်ရှိပြီး ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရစက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ စက်ပစ္စည်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ဓာတ်ငွေ့စက်မှုလုပ်ငန်းများကဏ္ဍတွင် သိမ်းဆည်းထားသည့်အနေဖြင့် သိပ်အချော့ ထည့်နှင့် ပရိဘောဂပစ္စည်း များထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူမတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူမတူ။

၁၃။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏သဘောထားမှတ်ချက်။</u>

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန

<u>ကုန်သွယ်မှု မူဝါဒကောင်စီ။</u>

ကုမ္ပဏီ ဒါရိုက်တာ နှင့် အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏အမည်စာရင်း | ဒါရိုက်တာ/ အစုရှင်များ၏လိပ်စာ |
|---|---|---|---|
| ၁ | မင်းဝံ စက်မှုလုပ်ငန်းများ ကုမ္ပဏီ လီမိတက် (Minn Wun Industries Co., Ltd.) | ၁။ ဦးအေးလွင် (ဒါရိုက်တာ) | အမှတ်(၁၈၈)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်သန်းသန်းဝင်း (ဒါရိုက်တာ) | အမှတ်(၁၈၈)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၃။ ဦးစိုးနိုင် (ဒါရိုက်တာ) | အမှတ် (၁၃၆)၊ လမ်း ၄၀၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးဇော်မျိုးသန့် (ဒါရိုက်တာ) | အမှတ်(၁၃)မင်းကြီးလမ်း၊ ပုသိမ်မြို့၊ ဧရာဝတီတိုင်း။ |
| | | ၅။ ဦးဇော်မျိုးထွန်း (ဒါရိုက်တာ) | အမှတ် ၁၀၊ မြစ်တွေ့ကျောင်းလမ်း၊ ဟင်္သာတမြို့၊ ဧရာဝတီတိုင်း။ |

R4254
8/11

85400
13/11

30155
14/11

# ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
## သစ်တောရေးရာ ဝန်ကြီးဌာန
### ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(ဂ)(၄)/(၂၁၈၇ /၂၀၀၀
ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၆ ရ

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှစက်ရုံတည်ဆောက်၍ သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုခြင်းအပေါ် သဘောထား မှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၀-၁၀-၂၀၀၀ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၆၇၀/၂၀၀၀(၂၂၀၅-၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ ဒဂုံမြို့သစ်၊ ဆိပ်ကမ်းမြို့နယ်၊စက်မှုဇုန်(၁)၊မြေကွက်အမှတ်(၂၁)တွင် စက်ရုံတည်ဆောက်ပြီး သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုကြောင်း လျှောက်ထားသည့် ကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ စက်ရုံတည်ဆောက်လိုခြင်းအပေါ် ကုမ္ပဏီ မှ တာဝန်ရှိ ပုဂ္ဂိုလ်များအား မြန်မာ့သစ်လုပ်ငန်းမှ တွေ့ဆုံစိစစ်ချက်အရ ၎င်းတို့၏ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် သစ်ကုန်ကြမ်းလိုအပ်ချက်မှာ ပျမ်းမျှနှစ်စဉ် ကျွန်းသစ်လုံးတန်(၁၀၀၀)နှင့် သစ်မာသစ်လုံးတန်(၃၀၀၀)၊ စုစုပေါင်း ကျွန်းနှင့်သစ်မာ သစ်လုံးတန် (၄၀၀၀) လိုအပ်မည်ဖြစ်ကြောင်း၊ ကျွန်းသစ်လုံးများကို မြန်မာ့သစ်လုပ်ငန်း မှ တင်ဒါစနစ်ဖြင့် လည်းကောင်း၊ သစ်မာသစ်လုံးများကို သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက် နှင့် အခြားတရားဝင် သစ်ထုတ်လုပ်ခွင့် ရရှိထားသော ပုဂ္ဂလိက လုပ်ငန်းရှင်များထံ မှ ဝယ်ယူ၍ လည်းကောင်း၊ ကုန်ကြမ်းရရှိရေးကို ကြိုးပမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထွက်ရှိလာသော ကုန်ချော များ၏ (၇၀%)ကို ပြည်ပသို့ တင်ပို့ရောင်းချပြီး၊ကျန်(၃၀%)ကို ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချ သွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ရာတွင် သစ်တောရေးရာဝန်ကြီးဌာန ၊ မြန်မာ့သစ်လုပ်ငန်းအနေဖြင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ကုမ္ပဏီများသို့ ကုန်ကြမ်း ကျွန်းသစ်လုံးများကို အမေရိကန်ဒေါ်လာဖြင့်သာ တင်ဒါဈေးနှုန်းအတိုင်း ရောင်းချပေးပါသည်။သစ်မာသစ်လုံး ကုန်ကြမ်းများကိုမူ မြန်မာ့သစ်လုပ်ငန်းနှင့် သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက်တို့ထံ မှ ဝယ်ယူရရှိနိုင်ပြီး၊ ထိုသို့ဝယ်ယူရရှိလာသော သစ်မာသစ်လုံး ကုန်ကြမ်းများမှ ထွက်ရှိသည့် ကုန်ချောပစ္စည်းများကိုသာ ပြည်ပသို့ တင်ပို့ခွင့်ပြုသွားနိုင်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြလာသော မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ အထက်ဖော်ပြပါ သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထားသော စည်းကမ်းချက်များအတွင်းမှ လုပ်ဆောင်သွားမည် ဆိုပါက သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( ဘချို ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - မြန်မာ့သစ်လုပ်ငန်း

# လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
## (မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | |
|---|---|
| ၁။ ကုမ္ပဏီအမည် | - မင်း ဝံ စက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက် ( MinnWun Industries Co., Ltd.) |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - ဦး အေး လွင် |
| ၃။ အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်အချောထည်နှင့်ပရိဘောဂပစ္စည်းများထုတ်လုပ်ခြင်း လုပ်ငန်း ။ |
| ၄။ တည်နေရာ | - မြေကွက်အမှတ်(၂၀)၊ စက်မှုဇုန်(၁)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်း ။ |
| ၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၈၃.၀၀ သန်း (US $၁.၀၀ သန်းအပါအဝင်) |
| - ငွေပမာဏ | ကျပ် ၁၃.၀၀ သန်း (US $၀.၅၀ သန်းအပါအဝင်) |
| - အဆောက်အဦ | ကျပ် ၄၅.၀၀ သန်း |
| - မြေ | ကျပ် ၂၀.၈၀ သန်း |
| - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ကျပ် ၁.၂၀ သန်း |
| - စက်ပစ္စည်းကိရိယာ | ကျပ် ၃.၀၀ သန်း (US $၀.၅၀ သန်း) |
| ၆။ မြေအကြောင်းအရာ | |
| - မြေအကျယ်အဝန်း | (၂.၄၀) ဧက (၉၇၁၂.၄၆ စတုရန်းမီတာ) |
| - မြေပိုင်ဆိုင်မှု | မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ကမကထပြုသူဦးအေးလွင် အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြေ ( မြေကိုမတည်ငွေရင်းအဖြစ်ထည့်ဝင်ထားပါသည်။) |
| - မြေအမျိုးအစား | စက်မှုမြေ |

၇။ ထုတ်လုပ်မှု ( ပုံမှန်နှစ် )

| | ကျွန်း (ကုဗမီတာ) | သစ်မာ (ကုဗမီတာ) |
|---|---|---|
| - Door & Window | ၉၉ | ၂၉၇ |
| - Door & Window Frame | ၁၉၈ | ၃၉၄ |
| - Furniture Components | ၁၉၈ | ၃၉၄ |
| - Parquet/Moulding | ၁၉၈ | ၃၉၄ |
| - Skirting Line | ၂၉၇ | ၈၉၁ |

၈။ ရောင်း ချမည့်နည်းစနစ်

| | ကျွန်း / သစ်မာ |
|---|---|
| - ပြည်တွင်း ရောင်း | (၃၀) ရာခိုင်နှုန်း |
| - ပြည်ပရောင်း | (၇၀) ရာခိုင်နှုန်း |

| | | | | | |
|---|---|---|---|---|---|
| ၉ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | ကျွန်း | | သစ်မာ | |
| | | ပြည်တွင်း (ကျပ်/ကုဗမီတာ) | ပြည်ပ (US$/Cu.m) | ပြည်တွင်း (ကျပ်/ကုဗမီတာ) | ပြည်ပ (US$/Cu.m) |
| | - Door & Window | ၄၂၀၀၀၀ | ၂၆၀၀ | ၁၇၀၀၀၀ | ၁၀၀၀ |
| | - Door & Window Frame | ၃၇၀၀၀၀ | ၂၂၀၀ | ၁၂၀၀၀၀ | ၉၀၀ |
| | - Furniture Components | ၃၇၀၀၀၀ | ၂၂၀၀ | ၁၂၀၀၀၀ | ၉၀၀ |
| | - Parque t / Moulding | ၃၂၀၀၀၀ | ၂၀၀၀ | ၁၁၅၀၀၀ | ၇၅၀ |
| | - Skirting Line | ၃၂၀၀၀၀ | ၂၀၀၀ | ၁၁၅၀၀၀ | ၇၅၀ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှစ်) | | | | |
| | - ကျပ်ငွေဖြင့် | ကျပ်၁၀၀.၅၆သန်း | | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၂.၈၀သန်း | | | |
| ၁၁ | အသားတင်အမြတ် (ပုံမှန်နှစ်) | | | | |
| | - ကျပ်ငွေဖြင့် | ကျပ်၇.၆၀သန်း | | | |
| | - နိုင်ငံခြားငွေဖြင့် | US ၄၀.၈၅သန်း | | | |
| ၁၂ | အရင်းကြေကာလ | (၄) နှစ်နှင့် (၈) လ | | | |
| ၁၃ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | (၁၀.၃၇) ရာခိုင်နှုန်း | | | |
| ၁၄ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် | | | | |
| | - ဝင်ငွေခွန် | ကျပ် ၃.၂၆သန်း<br>US$ [illegible].၁၇သန်း | | | |
| | - ကုန်သွယ်လုပ်ငန်းခွန် | | | | |
| | (ပြည်ပရောင်းရငွေအပေါ် ၁၀%) | US $ ၀.၂၈သန်း | | | |
| | (ပြည်တွင်းရောင်းရငွေအပေါ် ၂၅%) | ကျပ် ၄၅.၁၄သန်း | | | |
| ၁၅ | တည်ဆောက်မှုကာလ | (၁၂) လ | | | |
| ၁၆ | ဝန်ထမ်းအင်အား | ၁၅၃ ဦး | | | |
| | - ပြည်တွင်း | ၁၅[illegible] ဦး | | | |
| | - ပြည်ပ | ၃ ဦး | | | |
| ၁၇ | အခြား | - စက်ပစ္စည်းကိရိယာနှင့်ငွေသားချေးငွေများကို မလေးရှားနိုင်ငံ Muar Industries SDN BHD မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်ဖြင့် ယိုးမဲ့ဝယ်ယူမည်ဖြစ်ပြီး (၅) နှစ်အတွင်းပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>(စက်ပစ္စည်းစာရင်းကို ပူးတွဲတင်ပြထားပါသည်။) | | | |

- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိ ကြောင်း၊ မြေယာနှင့်ပတ်သက်၍နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းချက်များကိုလိုက် နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များမဖြစ်ပွားစေရန်လိုအပ် သောအစီအမံများကြိုတင်ကာကွယ်မှုများပြုလုပ်ထား မည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှချေးငွေရယူခြင်း သည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲလုပ်ငန်းမှ ရရှိသည့်နိုင်ငံခြားဝင်ငွေဖြင့်ပြန်လည်ပေးဆပ် မည်ဖြစ်ကြောင်း၊ ပြည်ပသို့တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရပြည်နယ်/တိုင်းဒေသန္တရစက်မှုကြီးကြပ် ရေးနှင့်လုပ်ငန်းစစ်ဆေးမှုညွှန်ကြားမှုဦးစီးဌာ နတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ စက် ပစ္စည်းအသစ်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်။

- သစ်တောရေးရာဝန်ကြီးဌာနမှသတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းအတိုင်းဆောင်ရွက်ပါကကန့်ကွက် ရန်မရှိကြောင်းသဘောထားပြန်ကြားလာပါသည်။

- မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှအဆိုပါ မြေနေရာပေါ်တွင်ခြံစည်းရိုးကာရံထားခြင်းမရှိ သေးကြောင်း၊ ၂၀'×၂၀'×၂ ရှိသွပ်မိုးအဆောက်အဦ တစ်လုံးရှိပါကြောင်းနှင့်လုပ်ငန်းဆောင်ရွက်နေ ခြင်းမရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန်သင့် တော်ပါကြောင်းသဘောထားပြန်ကြားလာပါသည်။

- ငွေကြေးနိုင်မာမှုအထောက်အထားအဖြစ်ကမကထ ပြုသူဦးအေးလွင်အမည်ဖြင့်အာရှဝဏ္ဏဘဏ်လီမိတက်၌ (၁၁-၉-၂၀၀၀) နေ့အထိလက်ကျန်ငွေကျပ် (၁၂.၀၈) သန်းကိုတင်ပြထားပါသည်။

- ကုမ္ပဏီအမည်ကိုမူလကမိုးစက်မှုလုပ်ငန်းများကုမ္ပဏီ လီမိတက်ဟုတင်ပြခဲ့ပြီး၊ ယခုအမည်တူရှိ၍ မင်းဝိစက် မှုလုပ်ငန်းများကုမ္ပဏီလီမိတက်ဟုပြင်ဆင်ခဲ့ခြင်းဖြစ် ပါသည်။

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ထုတ်ပေးပြီးသောသစ်အချောထည်ထုတ်လုပ်ခြင်းလုပ်ငန်း (၁၃) ခုရှိပြီးဖြစ်ပါသည်။<br>- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |



*ဇိုန် ၂၈-၁၁-၂၀၀၀။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းမှ ပြည်ပသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဃ)အရ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလ အထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုက်နှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများအပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။



*လှ၁၆/၁၁

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သစ်တောရေးရာဝန်ကြီးဌာန
မြန်မာ့သစ်လုပ်ငန်း

ရက်စွဲ – ၂၀၀၁ ခုနှစ်၊ မတ်လ (၂၈) ရက်

# ကတိဝန်ခံချက်

၁။ ကျွန်တော်တို့၏ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် ( မင်းဝံစက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက် ) သည်၊ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်ရှိ စက်မှုဇုန် ( ၁ )၊ မြေကွက်အမှတ် ( ၂၁ )၊ မြေ ( ၂.၄ ) ဧက ပေါ်တွင် မိမိအစီအစဉ်ဖြင့် သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်းကို လုပ်ဆောင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုလွှာကို တင်ပြထားပြီးဖြစ်ပါသည်။

၂။ ထိုသို့ မိမိအစီအစဉ်ဖြင့် သစ်အခြေခံ တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်းကို လုပ်ဆောင်ရာတွင် သစ်တောရေးရာဝန်ကြီးဌာန ၊ မြန်မာ့သစ်လုပ်ငန်း မှ သတ်မှတ်ထားသည့် နောက်ဆက်တွဲ ( က ) ပါ သစ်အခြေခံ တန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်းများနှင့် ပတ်သက်သော စည်းကမ်းသတ်မှတ်ချက်များကို ဖတ်ရှုသိရှိပြီး နားလည်သဘောပေါက်ပြီး ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီသည် သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်း မှ သတ်မှတ်ထားသော စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်းကို ဝန်ခံကတိပြုပါသည်။

၄။ အကယ်၍ ၊ နောက်ဆက်တွဲ ( က ) ပါ စည်းကမ်း သတ်မှတ်ချက်များကို ဖောက်ဖျက်ကျူးလွန်ပါက ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ အရေးယူခြင်းကို ခံယူသွားမည်ဖြစ်ကြောင်းကို ၊ မြန်မာ့သစ်လုပ်ငန်း ( ရုံးချုပ် ) ၌၊ အောက်ဖော်ပြပါ အရာထမ်း၏ ရှေ့မှောက်တွင် ဝန်ခံကတိပြုလျှက် လက်မှတ်ရေးထိုးအပ်ပါသည်။

| | |
|---|---|
| လက်မှတ် | – (signature) AYE LWIN Managing Director Minn-Wun Industries Co., Ltd. |
| အမည် | – ဦးအေးလွင် |
| နိုင်ငံသားအမှတ် | – ၁၂/ ဗတထ (နိုင်) ၀၀၉၂၇၁ |
| ရာထူးအဆင့် | – အုပ်ချုပ်မှုဒါရိုက်တာ |
| ကုမ္ပဏီအမည် | – မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် ( မင်းဝံစက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက် ) |
| ကုမ္ပဏီလိပ်စာ | – အမှတ် ၁၉၆ , ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ |
| ဖုန်းနံပါတ် | – ၂၄၅၆၆၃ |
| စက်ရုံတည်ဆောက်မည့် နေရာ/မြို့နယ်/ဖုန်း | – ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် ( ၁ ) အကွက်အမှတ် ( ၂၁ ) |

မြန်မာ့သစ်လုပ်ငန်း – အမှတ် ....... နေ့စွဲ ၂၈/၃/၂၀၀၁ – စီမံကိန်းနှင့်စာချုပ်ဆောင်ရွက်ရေး

မြန်မာ့သစ်လုပ်ငန်းမှ အရာထမ်း

လက်မှတ် – (signature) ၂၈/၃/၂၀၀၁

အမည် – ( သန်းအောင်နိုင် )

ရာထူး – ဒုတိယအထွေထွေမန်နေဂျာ ( စီမံကိန်း )
စီမံကိန်းနှင့်စာချုပ်ဆောင်ရွက်ရေး - မှ
မြန်မာ့သစ်လုပ်ငန်း

၇။ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် ဆူညံမှုမရှိစေရန် ၊ မထိခိုက်စေရန် ၊ စက်မှုဒေသ ၊နယ်မြေတွင်သာ လုပ်ငန်း စက်ရုံများ ထားရှိဆောင်ရွက်မှုရှိရမည်။

၈။ သစ်အခြေခံရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် နေရာဒေသအပေါ် မူတည်၍လည်းကောင်း၊ အသုံးပြုမည့် သစ်အမျိုးအစားများ ၊ သစ်ကုန်ကြမ်းလိုအပ်ချက် အနည်းအများအပေါ် မူတည်၍ လည်းကောင်း ၊ ထုတ်လုပ်မည့် ကုန်ချောပစ္စည်းအမျိုးအစားအပေါ် မူတည်၍ လည်းကောင်း ၊ ကိစ္စတစ်ခုခြင်း (Case by Case ) အပေါ်မူတည်၍ သဘောထားမှတ်ချက်ကို ဖြည့်စွက် ပြန်ကြားမည်။

၉။ မူလခွင့်ပြုချက် တင်ပြထားသည့် သစ်အခြေခံ လုပ်ငန်းမျိုးမှအခြားလုပ်ငန်းအမျိုးအစား( သစ်လုံးလိုက် ရောင်းခြင်း) ပြောင်းလဲလုပ်ကိုင်ခြင်း ဆောင်ရွက်လျှင် သစ်လုံးကုန်ကြမ်းရောင်းချပေးခြင်း ရပ်ဆဲမည်။(သစ်အခြေခံလုပ်ငန်း တင်ပြပြီး ရရှိသစ်လုံးလိုက် ရောင်းချခြင်းကို ဆိုလိုပါသည်။)

၁၀။ အထက်ဖော်ပြပါ စည်းကမ်းသတ်မှတ်ချက်များကို ဖောက်ဖျက်ကျူးလွန်လျှင် နိုင်ငံခြားကုမ္ပဏီ ဖြစ်လျှင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လည်းကောင်း ၊ မြန်မာနိုင်ငံသားကုမ္ပဏီဖြစ်လျှင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လည်းကောင်း ၊ အရေးယူခြင်းကိုခံရမည်။

**မိမိ အစီအစဉ်ဖြင့် ဆောင်ရွက်မည့် သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများထုတ်လုပ်သည့် လုပ်ငန်းများ လုပ်ဆောင်နိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် တောင်းခံလာသည့်အခါတွင် သစ်တောရေးရာဝန်ကြီး ဌာန၊မြန်မာ့သစ်လုပ်ငန်းမှ သတ်မှတ်ထားရှိသည့် စည်းကမ်းသတ်မှတ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-**

၁။ သစ်အခြေခံရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများသို့ လိုအပ်သော ကုန်ကြမ်းသစ်လုံးများကို တစ်နှစ်လျှင် ကျွန်းနှင့်သစ်မာ နှစ်မျိုးပေါင်း စုစုပေါင်း သစ်လုံးတန်(၆၀၀၀)အထိသာ ထောက်ခံချက်ပေးမည်။

၂။ ကုန်ကြမ်းသစ်လုံးများကို မြန်မာ့သစ်လုပ်ငန်းမှ လစဉ်ပြုလုပ်နေသော တင်ဒါနှင့် Sealed Tender တို့တွင် ဝင်ရောက်ယှဉ်ပြိုင်ပြီး ဝယ်ယူသည့် နည်းလမ်းဖြင့်လည်းကောင်း သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်းတွင် သစ်အခြေခံ ရင်းနှီးမြှုပ်နှံမှု ကုမ္ပဏီအနေဖြင့် မှတ်ပုံတင်၍ ဝယ်ယူသည့် နည်းလမ်းဖြင့်လည်းကောင်း၊ အခြားတရားဝင် နည်းလမ်းများဖြင့်လည်းကောင်း၊ မိမိ အစီအစဉ်ဖြင့် ဝယ်ယူရမည်။ (ကျွန်း/သစ်မာကုန်ကြမ်းသစ်လုံးများကို မြန်မာ့သစ်လုပ်ငန်းမှ တာဝန်ယူ ရောင်းချပေးခြင်း၊ကုန်ကြမ်းအာမခံချက်ပေးခြင်းမပြုပါ)။

၃။ မြန်မာ့သစ်လုပ်ငန်း၊သစ်တောထွက်ပစ္စည်းဖက်စပ်ကော်ပိုရေးရှင်းနှင့်အခြားတရားဝင်နည်းလမ်းများမှ အမေရိကန်ဒေါ်လာဖြင့် ဝယ်ယူရရှိထားသည့် ကျွန်း နှင့် သစ်မာ သစ်လုံးကုန်ကြမ်းများကို အသုံးပြု၍ ထွက်ရှိလာသော ကုန်ချောများကိုသာ ပြည်ပသို့ တင်ပို့ခွင့်ပြုမည်။ကျပ်ငွေဖြင့် ဝယ်ယူသော ကျွန်း/သစ်မာ သစ်လုံးကုန်ကြမ်းများကို အသုံးပြု၍ ထွက်ရှိလာသော ကုန်ချောများကို ပြည်ပတင်ပို့ခွင့်မပြုပါ။

၄။ ကျွန်းကိုင်းဖျားကိုင်းနား ၊ ကျွန်းပယ်သစ် ၊ သစ်လုံးများကိုလည်း သစ်တောထွက်ပစ္စည်းဖက်စပ်ကော်ပိုရေးရှင်း နှင့် ဆက်သွယ်ပြီး မိမိ အစီအစဉ်ဖြင့် ဝယ်ယူခွင့်ရှိသည်။

၅။ ကုန်ကြမ်းသစ်လုံးဝယ်ယူခြင်း၊ကုန်ချောထုတ်လုပ်ခြင်း၊ပြည်ပတင်ပို့ရန် ပြင်ဆင်ထုတ်ပိုးခြင်း ၊ လုပ်ငန်းအဆင့်ဆင့်တို့အတွက် စာရင်းမှတ်တမ်းများ ၊ အချိန်မရွေး အစစ်ဆေးခံနိုင်ရန် ထားရှိရမည်။ (မကြာမီ ပေါ်ပေါက်လာမည့် Timber Certification ၏ မှတ်တမ်းပုံစံများအတိုင်း ပြုစုအစစ်ဆေးခံနိုင်ရန်ဖြစ်သည်။)

၆။ တရားမဝင်သစ်များ ဝယ်ယူပြီး လုပ်ငန်းဆောင်ရွက်ခြင်း တွေ့ရှိပါကမူလလုပ်ငန်းခွင့်ပြုခြင်းအားရပ်ဆိုင်းပေးရန်၊သက်ဆိုင်ရာ လုပ်ငန်းခွင့်ပြုသည့်ဌာနသို့ တင်ပြခြင်းဆောင်ရွက်မည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(င)(၇)/(၄၈၉ /၂၀၀၁)

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ထပ်မံပြန်ကြားပေးပါရန်ကိစ္စ

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁-၂၀၀၁ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-သဘောထား/၂၀၀၀(၃၁၈၁-ဆ)

(၂) သစ်တောရေးရာဝန်ကြီးဌာန၏ ၇-၂-၂၀၀၁ ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၁)/(၂၃၇/၂၀၀၁)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက်မေးမြန်းလာသည့် မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၊ ရွှေမိုးကုမ္ပဏီလီမိတက်၊ ကျွန်းကန္တာကုမ္ပဏီလီမိတက်နှင့် မြန်မာမေကောင်းကုမ္ပဏီလီမိတက်တို့မှ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် တင်ပြထားချက်များသည် ဤဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့် ကိုက်ညီမှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၂။ ဤဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များကို သက်ဆိုင်ရာကုမ္ပဏီများသို့ အသိပေးထားပြီးဖြစ်ရာ၊ ၎င်းတို့ထံမှလည်း လိုက်နာမည်ဖြစ်ကြောင်း ဂတိဝန်ခံချက်ရယူရေးကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ထို့ပြင် သစ်သန့်စင်ကုမ္ပဏီလီမိတက်နှင့်ပတ်သက်၍၊ ၎င်းမှ ရော်ဘာသစ်ခွဲစိတ်ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခြင်းဖြစ်ရာ မြန်မာ့သစ်လုပ်ငန်းနှင့် မသက်ဆိုင်ပါကြောင်းနှင့် သစ်တောဦးစီးဌာနသို့ ၎င်းကုမ္ပဏီအား သစ်တောဦးစီးဌာန၏ စည်းကမ်းချက်များကို ခေါ်ယူရှင်းလင်းအသိပေးပြီး၊ ဂတိဝန်ခံချက်ရယူရေးကို ဆောင်ရွက်ထားရန် ညွှန်ကြားထားပြီးဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မေးမြန်းလာသည့် သစ်အခြေခံစက်မှုလုပ်ငန်း လုပ်ကိုင်လိုခြင်း နှင့် ရော်ဘာသစ်ခွဲစိတ်ထုတ်လုပ်လိုခြင်း အပေါ် အထက်ရည်ညွှန်းချက် (၂) ပါ ဝန်ကြီးဌာနမှ ပေးပို့ထားခဲ့သည့် စည်းကမ်းသတ်မှတ်ချက်များ အတိုင်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)

( ဘရှိ ၊ ရုံးအဖွဲ့မှူး )

မိတ္တူ- ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့သစ်လုပ်ငန်း

-ညွှန်ကြားရေးမှူးချုပ် သစ်တောဦးစီးဌာန ၊ ထံသို့ ၁၄-၁၁-၂၀၀၀ ရက်စွဲပါစာအမှတ်၊ စီမံကိန်း/သ-၃/(၁၆၂၉/၂၀၀၀) ကိုရည်ညွှန်းလျက် သစ်သန့်စင်တုမ္ဗကီအား စည်းကမ်းချက်များ ခေါ်ယူရှင်းလင်းပြရန်နှင့် ဂတိဝန်ခံချက်ရယူထားရန် ညွှန်ကြားချက်ဖြင့် ပေးပို့ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၄၁ / ခွဲ-၃ / ၂၀၀၀ (စီ ၈၃၇၇)
ရက် စွဲ၊ ၂၀၀၀ပြည့်နှစ် နိုဝင်ဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ် အောက်တိုဘာလ (၁၀)ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၆၇၀/၂၀၀၀ (၂၂၀၅-ချ)

ဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်၊ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်စက်မှုဇုန်အမှတ်(၁)၊ မြေကွက်အမှတ် (၂၁)၊ ဧရိယာ (၂.၄၀) ဧကပေါ်တွင် သစ်အချောထည်နှင့်ပရိဘောဂထုတ်လုပ်သည့်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှတင်ပြလာခြင်းနှင့်ပတ်သက်၍ အဆိုပြုမြေပေါ်တွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ၊ မြေပေါ်တွင် ၂၀' × ၂၀' × ၂၇' ရှိ သွပ်မိုးအဆောက်အဦးတစ်လုံးရှိပြီး ခြံစည်းရိုးကာရံထားခြင်းမရှိပါကြောင်းနှင့် မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ လက်ရှိလုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(တင့်ဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

-/မာ**

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(ဂ)(၄)/(၂၁၈၇/၂၀၀၀)

ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ စက်ရုံတည်ဆောက်၍ သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၀-၁၀-၂၀၀၀ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၆၇၀/၂၀၀၀(၂၂၀၅-ဓ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ ဒဂုံမြို့သစ်၊ ဆိပ်ကမ်းမြို့နယ်၊စက်မှုဇုန်(၁)၊မြေကွက်အမှတ်(၂၁)တွင် စက်ရုံတည်ဆောက်ပြီး သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုကြောင်း လျှောက်ထားသည့် ကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ စက်ရုံတည်ဆောက်လိုခြင်းအပေါ် ကုမ္ပဏီ မှ တာဝန်ရှိ ပုဂ္ဂိုလ်များအား မြန်မာ့သစ်လုပ်ငန်းမှ တွေ့ဆုံစိစစ်ချက်အရ ၎င်းတို့၏ သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် သစ်ကုန်ကြမ်းလိုအပ်ချက်မှာ ပျမ်းမျှနှစ်စဉ် ကျွန်းသစ်လုံးတန်(၁၀၀၀)နှင့် သစ်မာသစ်လုံးတန်(၃၀၀၀)၊ စုစုပေါင်း ကျွန်းနှင့်သစ်မာ သစ်လုံးတန် (၄၀၀၀) လိုအပ်မည်ဖြစ်ကြောင်း၊ ကျွန်းသစ်လုံးများကို မြန်မာ့သစ်လုပ်ငန်း မှ တင်ဒါစနစ်ဖြင့် လည်းကောင်း၊ သစ်မာသစ်လုံးများကို သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက် နှင့် အခြားတရားဝင် သစ်ထုတ်လုပ်ခွင့် ရရှိထားသော ပုဂ္ဂလိက လုပ်ငန်းရှင်များထံ မှ ဝယ်ယူ၍ လည်းကောင်း၊ ကုန်ကြမ်း ရရှိရေးကို ကြိုးပမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထွက်ရှိလာသော ကုန်ချော များ၏ (၇၀%)ကို ပြည်ပသို့ တင်ပို့ရောင်းချပြီး၊ကျန်(၃၀%)ကို ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချ သွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ရာတွင် သစ်တောရေးရာဝန်ကြီးဌာန ၊ မြန်မာ့သစ်လုပ်ငန်းအနေဖြင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ကုမ္ပဏီများသို့ ကုန်ကြမ်း ကျွန်းသစ်လုံးများကို အမေရိကန်ဒေါ်လာဖြင့်သာ တင်ဒါဈေးနှုန်းအတိုင်း ရောင်းချပေးပါသည်။သစ်မာသစ်လုံး ကုန်ကြမ်းများကိုမူ မြန်မာ့သစ်လုပ်ငန်းနှင့် သစ်တောထွက်ပစ္စည်း ဖက်စပ်ကော်ပိုရေးရှင်း လီမိတက်တို့ထံ မှ ဝယ်ယူရရှိနိုင်ပြီး၊ ထိုသို့ဝယ်ယူရရှိလာသောသစ်မာသစ်လုံး ကုန်ကြမ်းများမှ ထွက်ရှိသည့် ကုန်ချောပစ္စည်းများကိုသာ ပြည်ပသို့ တင်ပို့ခွင့်ပြုသွားနိုင်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြလာသော မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ အထက်ဖော်ပြပါ သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ထားသော စည်းကမ်းချက်များအတွင်းမှ လုပ်ဆောင်သွားမည် ဆိုပါက သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( ဘ ချို ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ- မြန်မာ့သစ်လုပ်ငန်း

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(၈)(၄)/(၆၀၄၅/၂၀၀၀)

ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ အောက်တိုဘာလ၁၉ရက်

အကြောင်းအရာ။ <u>မိုးစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ စက်ရုံတည်ဆောက်၍ သစ်အချောထည်နှင့်ပရိဘောဂပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားရန်ကိစ္စ</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၀၀ပြည့်နှစ်၊ အောက်တိုဘာလ ၁၀ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၆၃၀/၂၀၀၀(၂၂၀၅-၈)စာမိတ္တူတစ်စောင်နှင့်မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှတင်ပြစာမူရင်းတို့ကို ပူးတွဲပေးပို့ပါသည်။

၂။ ယင်းစာပါမိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ဒဂုံမြို့သစ်၊ ဆိပ်ကမ်းမြို့နယ် စက်မှုဇုန်(၁)တွင်စက်ရုံတည်ဆောက်ပြီး၊ သစ်အချောထည်နှင့်ပရိဘောဂပစ္စည်းများ ထုတ်လုပ်လိုခြင်းအပေါ် လေ့လာစိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ယင်းကုမ္ပဏီမှတင်ပြစာများ ပြန်လည်ပူးတွဲလျက်၍ ဝန်ကြီးရုံးသို့ပြန်လည်တင်ပြရန်အကြောင်းကြားပါသည်။

ဝန်ကြီး (ကိုယ်စား)

( ဘချို ၊ ရုံးအဖွဲ့မှူး )

ဦးဆောင်ညွှန်ကြားရေးမှူး

<u>မြန်မာ့သစ်လုပ်ငန်း</u>

မိတ္တူ - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

ဌေး *၁၆

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၂၅၂၇၅၆။


စာအမှတ်၊ ၇၈ - ၁ /မ-သဘောထား / ၂၀၀၀(သစ်-က)
ရက်စွဲ ၊ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်။

သို့၊

ဦး အောင်ဖုန်း
ဝန်ကြီး
သစ်တောရေး ဝန်ကြီး ဌာန။

အကြောင်းအရာ။ ။ သဘောထား မှတ်ချက်ထပ်မံပြန်ကြား ပေး ပါရန်။

ရည်ညွှန်းချက်။ ။ (၁) သစ်တောရေး ဝန်ကြီး ဌာန၏(၆.၁၁.၂၀၀၀)
ရက်စွဲပါစာအမှတ်၊ ၂/၂၃၀(ဂ)(၄)/(၂၁၀၇/၂၀၀၀)။
(၂) သစ်တောရေး ဝန်ကြီး ဌာန၏ (၂၂.၁၁.၂၀၀၀)
ရက်စွဲပါစာအမှတ်၊ ၂/၂၃၀(င) (၄)/(၂၂၀၁/၂၀၀၀)။
(၃) သစ်တောရေး ဝန်ကြီး ဌာန၏ (၂၂.၁၁.၂၀၀၀)
ရက်စွဲပါစာအမှတ်၊ ၂/၂၃၀(င) (၄)/(၂၂၇/၂၀၀၀)။
(၄) သစ်တောရေး ဝန်ကြီး ဌာန၏ (၂၂.၁၂.၂၀၀၀)
ရက်စွဲပါစာအမှတ်၊ ၂/၂၃၀(င)(၄)/(၂၄၀၁/၂၀၀၀)။
(၅) သစ်တောရေး ဝန်ကြီး ဌာန၏ (၂၆.၁၂.၂၀၀၀)
ရက်စွဲပါစာအမှတ်၊ ၂/၂၃၀(င)(၄)/(၂၅၃၀/၂၀၀၀)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မိုးစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (မင်းဝံစက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက်)၊ သစ်သန့်စင်ကုမ္ပဏီလီမိတက်၊ ရွှေမဲစက်မှုကုမ္ပဏီလီမိတက်၊ ကျွန်းကမ္ဘာကုမ္ပဏီလီမိတက်နှင့်မြန်မာမေကောင်းကုမ္ပဏီလီမိတက်တို့မှ သစ်အခြေခံတန်ဖိုးမြှင့်ပစ္စည်းများ ထုတ်လုပ်ရန်အဆိုပြုချက်များအပေါ် သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ သစ်တောရေး ဝန်ကြီး ဌာနမှ အထက်ရည်ညွှန်းပါစာများဖြင့် သဘောထားမှတ်ချက်များ ပြန်ကြားခဲ့သည်ကို လက်ခံရရှိခဲ့ပါသည်။

၂။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၁.၁.၂၀၀၁) နေ့တွင်ကျင်းပသော (၁/၂၀၀၁) အစည်းအဝေး မှ လမ်းညွှန်ချက်များအရ ၊ အဆိုပါလုပ်ငန်းများနှင့်စပ်လျဉ်း၍ကုမ္ပဏီများ၏ကုန်ကြမ်းအရေအတွက်တင်ပြချက်အပေါ် သစ်တောရေးရာဝန်ကြီးဌာနအနေဖြင့် ရောင်းချပေးနိုင်ခြင်း ရှိ-မရှိကိုလည်းကောင်း ၊ သစ်တောရေးရာဝန်ကြီးဌာန၏ ဥပဒေနှင့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာရန် ဖော်ပြ၍လိုက်နာနိုင်ခြင်း မရှိပါက မည်သို့ အရေးယူဆောင်ရွက်မည်ကိုလည်းကောင်း ၊ တိတိကျကျသတ်မှတ်ဖော်ပြလျက်သဘောထားမှတ်ချက်ထပ်မံပြန်ကြားပေးပါရန်နှင့်သက်ဆိုင်ရာကုမ္ပဏီများကိုခေါ်ယူ၍ ဝန်ခံဂတိလက်မှတ်ရေးထိုးရယူနိုင်ပါရန်ညွှန်ကြားမေတ္တာရပ်ခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝင်း / *

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၂၅၂၇၅၆။

စာအမှတ်၊ ရက - ၁ / မ - ၆၇၀ / ၂၀၀၀ (၂၂၀၅-ချ)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာလ ၁၀ ရက်

သို့

ဗိုလ်ချုပ် စောထွန်း
ဝန်ကြီး
ဆောက်လုပ်ရေး ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သဘောထား မှတ်ချက် တောင်း ခံခြင်း ကိစ္စ။</u>

ရည်ညွှန်းချက်။ ။ မိုး စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ ၄-၁၀-၂၀၀၀ ရက်စွဲပါစာ။

၁။ မိုး စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် ယောင်၍ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်၊ ဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်(၂၀)ရှိ မြေ(၂.၄၀)ဧက (၉၇၁၂.၀၃၈ စတုရန်းမီတာ)တွင် သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့ တင်ပြလျှောက်ထား လာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာ [illegible] သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့် အဆိုပြုလုပ်ငန်းကို ဖော်ပြပါမြေနေရာတွင် ဆောင်ရွက်ရန် "သင့် - မသင့်" နှင့် အဆိုပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်နေခြင်း "ရှိ - မရှိ" စိစစ်ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

<u>ပူးတွဲ၊</u> - (၁) အဆိုပြုချက်
(၂) မြေအထောက်အထား

(signature)

( ဦး သောင်း )
ဥက္ကဋ္ဌ

မိတ္တူကို၊ - ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

ဝင်း / *

[illegible] နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ [illegible]မြို့။

တယ်လီဖုန်း - ၂၅၂၇၅၆။

စာအမှတ်၊ ရက - ၁ / မ - ၆၇၀ / ၂၀၀၀ (၂၂၀၅-၈)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာလ ၁၆ ရက်

သို့၊
ဦး အောင်ဖုန်း
ဝန်ကြီး
သစ်တောရေးဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သစ်တောသား မှတ်ချက် တောင်းခံခြင်း ကိစ္စ။</u>
ရည်ညွှန်းချက်။ ။ မိုး စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ ၄-၁၀-၂၀၀၀ ရက်စွဲပါစာ။

၁။ မိုး စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် ယောင်၍ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်၊ ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုံ(၁)၊ မြေကွက်အမှတ်(၂၁)ရှိ မြေ(၂.၄၀)ဧက (၉၇၁၂.၀၃၈ စတုရန်းမီတာ) တွင် သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အတွက် ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၏ အခန်း(၃)၊ အပိုဒ်(၁၁) ပါပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ သစ်တောရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

<u>ပူးတွဲ။</u> - (၁) အဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ
(၃) Deferred Payment Loan Agreement(Draft)

[signature]

(ဦး သောင်း)
ဥက္ကဋ္ဌ

မိတ္တူကို၊ -
ဦး ဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း။

ဝင်း / *

၄-၅၈ ၁၀/၁ ၉၁၄၅၄ ၁၁/၁

အထွေထွေ အရပ်ရပ် - ၁၆
( ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ အဖွဲ့သို့အမှာစာများပေးပို့ခြင်း ။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့တင်ပြမည့်အဆိုပြုချက် ( ၅ ) ခု၏ အမှာစာများ ပေးပို့ခြင်း အတွက်လက်မှတ် ရေးထိုး ပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

၁၀ - ၁ - ၂၀၀၁ ။

ဥက္ကဋ္ဌ ။

၁၀-၁-၂၀၀၁

[illegible]

Cabinet [illegible]

[illegible] calinet [illegible]

၁/၂၀၀၁ calinet [illegible] - dents + penalty [illegible]

[illegible] calinet [illegible]

၁၁/၁

DSSC/DNMO